ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၂% ကိုသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် ပတ်သက်၍ မီးဘေးအန္တရာယ် မဖြစ်ပွားရေး အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃၆/၂၀၁၄ (၁၅-၉-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောတူပါက စက်မှုဇုန်မြေ ငှားရမ်းဆောင်ရွက်ခွင့် ပြုပါရန်ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့ ၏ သဘောတူ ခွင့်ပြုချက် ရရှိပါက ခွင့်ပြုမိန့် ထုတ်ပေးရန် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ် ရရှိသော အမြတ်ငွေမှ ၂% ကိုသုံးစွဲမည်ဟု ဖော်ပြထားသော်လည်း သုံးစွဲမည့် အစီအစဉ်ကို ဖော်ပြထားခြင်း မရှိပါ။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ အစားအစာ နှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို သဘောတူ-မတူ။

ဉက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Nestle Myanmar Ltd.** | (၁) Mr. David Pettinari<br>Director<br>Argentinian<br>AAB788584 | 1103, Ye Ta Khun Tower, Upper Kyimyindaing Road, Kyimyindaing Township, Yangon |
| | | (၂) Mr. Wayne Russell England<br>Director<br>Australian<br>M9055939 | 22/3 Soi Sukhumvit 18, Sukhumvit Road, Klong Toey, Bangkok 10110, Thailand |
| | | (၃) Mr. Nophadol Siwabutr<br>Director<br>Thai<br>I979901 | 149/19 Soi Prasartsuk, Yen-Arkart Road, Yannawa, Bangkok 10120, Thailand |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉၅၁၈၃၇၉၉

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အခန်း ၁၅၀၉၊ ၁၅ လွှာ၊ ဆာကူရာတာဝါ၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ခင်လိမ္မာဘန်အေး

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

**နောက်ဆက်တွဲ-က**



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ စက်တင်ဘာ လ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၉. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၀၆ / ၂၀၁၄ (၀၀၇၉)

၁။ မြန်မာနိုင်ငံ၊ ဦးအောင်မော်သိန်း မှ (၅%)နှင့် ဆွစ်ဇာလန်နိုင်ငံ၊ Nestle S.A. မှ (၉၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ အမှတ်(၉၅)ရှိ မြေ ၃. ၁၆၂ ဧက (၁၂,၈၀၂ စတုရန်းမီတာ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ၊

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၅၂)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ အမှတ်(၉၅)ရှိ မြေ၃. ၁၆၂ ဧက (၁၂,၈၀၂ စတုရန်းမီတာ)အား ၁ စတုရန်းမီတာလျှင် ၂၈. ၉၉ ဒေါ်လာနှုန်းဖြင့် (၆)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်၊

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၅.၉.၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၆/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၁)အရ Nestle Myanmar Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Nestle Myanmar Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

**နောက်ဆက်တွဲ-ခ**

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅ (၂၈၇၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၂၄ ရက်

NPT-1793
24·9·14
၁၉၇ 42/2619

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂.၉.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၀၆/ ၂၀၁၄ (၀၀၈၂)

၁။ Nestle Myanmar Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ အမှတ်(၉၅)တွင် အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ထုပ်ပိုးပစ္စည်းများမှအပ ကျန်ကုန်ကြမ်းများအားလုံးကို ပြည်ပမှတင်သွင်းမည်ဟု ဖော်ပြထားသဖြင့် ပြည်တွင်းကုန်ကြမ်းများအား အချိုးအစားအသင့်အတင့် သုံးစွဲ နိုင်ရေးနှင့် နို့မှုန့်ကုန်ကြမ်းအား ပြည်ပမှတင်သွင်းခြင်းထက် ပြည်တွင်း၌ နွားမွေး မြူရေးလုပ်ငန်းကိုလည်း စီစဉ်ဆောင်ရွက်သင့်ပါသည်။

(စ) ထုတ်လုပ်မည့် ကုန်ချောစာရင်းတွင် Power Beverage ဟုသာ ဖော်ပြထားပြီး ကော်ဖီမှုန့်၊ ကော်ဖီမစ်၊ အချိုရည်မှုန့် စသည်ဖြင့် ခွဲခြားဖော်ပြထားခြင်းမရှိပါသဖြင့် စိစစ်နိုင်ခြင်းမရှိပါ။

(ဆ) ၂၀၁၅-၂၀၁၆ ခုနှစ်များတွင် ထုတ်လုပ်မှု ဖော်ပြထားသော်လည်း ကုန်ကြမ်းနှင့် ထုပ်ပိုးပစ္စည်းများ ဖော်ပြထားခြင်းမရှိပါ။

(ဇ) ကလေးများအတွက် ရည်ရွယ်သော ထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်မည်ဆိုပါက တိတိကျကျဖော်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Nestle Myanmar Ltd. မှ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၅မခ(က)၂၀၁၄(၄၈၉၆)/၁၅၁၈၅

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ(၁၀)ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂-၉-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၀၆/၂၀၁၄(၀၀၈၁)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံမှ (၅%)နှင့် ဆွစ်ဇာလန်နိုင်ငံ၊ Nestle S.A မှ (၉၅%)အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nestle Myanmar Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ အမှတ်(၉၅)ရှိ အဆောက်အဦအား ငှားရမ်း၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်နှင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ ကျန်းမာရေးဝန်ကြီးဌာနအနေဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ -

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြစ်ခြင်း၊

(ခ) ရင်းနှီးမြှုပ်နှံမှုပမာဏကြီးမားခြင်း၊

(ဂ) ပြည်သူများစားသုံးမည့် အစားအသောက်နှင့် အဖျော်ယမကာများ ထုတ်လုပ်မည့်ကိစ္စဖြစ်ခြင်း၊

(ဃ) တင်ပို့၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချမည့် လုပ်ငန်းအဆင့်ဆင့်များကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာ ဆန်းစစ်ခြင်း၊ ကျန်းမာရေးထိခိုက်မှုဆိုင်ရာဆန်းစစ်ခြင်းနှင့် အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနသို့ တရားဝင်လိုင်စင်တင်သွင်းမှု အဆင့်ဆင့်ဆောင်ရွက်ခြင်းများအား မဖြစ်မနေ ဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( စိန်ဝင်း၊ ရုံးအဖွဲ့မှူး )

မိတ္တူကို -

၁။ ညွှန်ကြားရေးမှူးချုပ်၊ ကျန်းမာရေးဦးစီးဌာန

၂။ ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၃)/( ၂၆၉၈ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊အောက်တိုဘာလ ၁၃ ရက်

NIT - ၄၄၆၀ 14.10.14

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂- ၉ -၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၂/န -၁၀၆/ ၂၀၁၄ (၀၀၈၀)

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ဦးအောင်မော်သိန်းမှ(၅%) ဆွစ်ဇာလန်နိုင်ငံ Nestle S.A မှ (၉၅%) အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nestle Myanmar Ltd တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံဆိပ်ကမ်းမြို့နယ် ၊ စက်မှုဇုန်(၁) ၊ အမှတ် (၉၅)ရှိ မြေ(၃.၁၆၂)ဧက (၁၂၈၀၂ စတုရန်း မီတာ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ အစားအစာ နှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ စီစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၆)နှစ်ဖြစ်၍၊ တည်ဆောက်မှုကာလမှာ (၃)နှစ်ကြာမြင့်မည်ဖြစ်ကြောင်း ၊ အစားအစာ နှင့် အဖျော်ယမကာ များကို ပထမနှစ်တွင် တန်(၅၄၇၅)ခန့် ထုတ်လုပ်မည်ဖြစ်ကာ ဒုတိယနှစ်မှစ၍ ပိုမိုတိုးမြှင့် ထုတ်လုပ်ပြီး ပြည်ပသို့ တင်ပို့ရောင်းချသွားမည်ဖြစ်ကြောင်း ၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်အဖြစ် လုပ်ငန်းလည်ပတ်လျက်ရှိသည့် စက်ကိရိယာများအား ပုံမှန်စစ်ဆေး၍ အပူချိန်အားထိန်းညှိရန်အတွက် စက်ရုံအတွင်း လေအေးပေးစက်များ တပ်ဆင်သွားမည်ဖြစ်ကြောင်း ၊ ဝန်ထမ်းများအား အဖွဲ့ဖွဲ့၍ မီးဘေးကာကွယ်ရေး ပစ္စည်းများ ကိုင်တွယ်အသုံးပြုတတ်စေရန် သင်တန်းများပေးသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များ နှင့် ပတ်သက်၍ နိုင်ငံတကာ စံချိန်စံညွှန်း ISO 14001 နှင့် အညီဆောင်ရွက်သွားမည် ဖြစ်ကြောင်း နှင့် လုပ်ငန်းလည်ပတ်မှုကြောင့် ပတ်ဝန်းကျင်အပေါ် ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြု အစားအစာ နှင့် အဖျော်ယမကာများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာ၌ အသုံးပြုမည့် နို့နှင့် နို့ထွက်ပစ္စည်းများ၊ ကော်ဖီစေ့များ ၊ သကြားများနှင့် အာဟာရမှုန့်များအား ခြောက်သွေ့သန့်ရှင်းစွာ သိုလှောင်ထားခြင်းမရှိပါက မှိုများ၊ ဘက်တီးရီးယားများနှင့် ပိုးမွှားများဝင်ရောက်နိုင်ပါသဖြင့် စားသုံးသူတို့၏ ကျန်းမာရေးအား ထိခိုက်စေနိုင်ပြီး ပတ်ဝန်းကျင်

ထိခိုက်မှုများအနေဖြင့် စားသောက်ကုန်များကို ထုတ်ပိုးရာတွင် အသုံးပြုမည့် Plastic မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စီမံခန့်ခွဲခြင်း မရှိပါက လေထု၊ မြေထုနှင့် ရေထုကို ညစ်ညမ်းစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Nestle Myanmar Ltd မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အစားအစာ နှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပါလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအမံများ ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များစီမံခန့်ခွဲမှုအစီအမံများ၊ အထူးသဖြင့် ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်တပ်ဆင်မှုအစီအမံများ ၊ လုပ်ငန်းခွင်ဘေး အန္တရာယ်ကင်းရှင်းရေးအစီအမံများ၊ စောင့်ကြည့်လေ့လာမည့် အစီအမံများ ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့်ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံး လုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထား များရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ။ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

Form (1)
Proposal Form of Investor /Promoter for the invesment to be made in the Republic of the Union of Myanmar
7b1. Paticulars about invested machine list to be imported:-

| Item | Machine Name | Function | Specifications | Qty | Unit | Unit Cost (USD) |
|---|---|---|---|---|---|---|
| Production Equipment | | | | | | |
| 1 | Big Bag tipping station | unload powder beverages from big bag to Hopper | Use for 1,000 Kg BigbagFood contact part much be food grade, complete with safety guard | 2 | ea. | 77,399 |
| 2 | Vibrating sieve | To separate foreign material | Stainless steel, 2 mm sieve, capacity 2 Ton/Hr. | 3 | ea. | 67,079 |
| 3 | Powder conveyor & Transport | To transfer powder from tipping to Hopper | Pneumatic system with Stainless steel pipe, capacity 4 Ton/Hr. | 1 | ea. | 185,759 |
| 4 | Magnetic trap | To correct metal | Stainless steel, capacity 2 Ton/Hr. Magnet froce 8,000 GAUSS | 6 | ea. | 9,288 |
| 5 | Stainless steel hopper | Storage product before fill | Stainless steel, 1200 Liters | 4 | ea. | 32,508 |
| 6 | Stick pack Filling machine | For powder beverage in stick chain format | Automatic filling machine, 12 lanes per machine | 3 | set | 541,796 |
| 7 | Sachet Filling machine | For powder beverage in sachet in chain format | Automatic filling machine, 6 lanes per machine | 1 | ea. | 541,796 |
| 8 | Laser date code | Printing date code on packaging | Laser Printer with fume extractor and filter | 16 | set | 30,960 |
| 9 | Conveyor | To transport powder beverage | Belt & Top chain converyor | 2 | Set | 154,799 |
| 10 | Heat sealer | For pouch sealing | Electric Temp 0-200 C., speed 10 pouch/min | 10 | ea. | 6,192 |
| 11 | Check weigher for pouch | check product weight | 0-10 Kg. check weigher with automatic rejection | 2 | ea. | 30,960 |
| 12 | X-ray | Check foreign body | X-ray m/c with automatic rejectionSUS Ball 0.8 mm, Wire, Glass 2.0 mm | 2 | ea. | 77,399 |
| 13 | Case sealer | Close carton box | Automatic carton sealing machine with safety door, Speed > 600 Carton/hr. | 2 | ea. | 15,480 |
| 14 | Check weigher for carton | check product weight | Digital carton check weight 0-20 kgs | 2 | ea. | 15,480 |
| 15 | Ink jet coder | Printing date code on packaging | Ink jet printer for carton with support | 2 | ea. | 7,740 |
| 16 | Stretch wrap | Wrap carton on pallet by stretch wrap film | Automatic stretch machine for film 15 - 30 micron, 200% stretch, with safety protection | 1 | ea. | 20,124 |
| 17 | Screw conveyor | Transport powder from hopper to fillers | Stainless steel, 3,500 kg/hour | 4 | ea. | 30,960 |
| 18 | Stick counting machine | Counting stick pack from filler | Counting stick pack at 600 stick/min. | 3 | ea. | 216,718 |
| 19 | Bagging machine | Automatic bagging after counting | Automatic vertical bagging speed 20-30 bags/min. | 3 | ea. | 185,759 |
| Utility Equipment | | | | | | |
| 1 | Air Compressor unit with accessories | Compressed air at 7 bar | Oil free air compressor with air dryer, filter set and 1 cu.m storage tank | 1 | Set | 544,892 |
| 2 | Air condition system for production | Cool down & control air in production room | Hygienic design Air handling unit for Temperature control at 25 Deg.C with moisture control at 45%RH | 2 | Set | 123,839 |
| 3 | Air condition system for office | Cool down & control air in office | Temperature control at 25 Deg.C | 3 | Set | 18,576 |
| 4 | Water treatment system | City water treatment system | Complete set with water tank, Pump and filter, Capacity 10 m3/hr. @ 20 MWC | 1 | Set | 526,316 |
| 5 | Fire water system | For fire extinguisher in case of fire | Automatic fire sprinkle system | 1 | Set | 154,799 |
| 6 | Electrical Diesel Generator | To generate electrical supply to production in case of power cut | High speed diesel generator for 500 KVA with automatic synchronisation when power cut | 1 | Set | 154,799 |
| 7 | Transformer | Convert the electricl power from high to low voltage | 2,000 KVA, oil type | 1 | set | 46,440 |
| 8 | Power Distribution Panel | To supply power to Motor control Panel | Explosion proof cabinet with electrical equipment install inside eg. Circuit breaker, power meter, brush bar, cable, ect. | 1 | Set | 123,839 |
| Material Handling | | | | | | |
| 1 | Racking system | Store and manage RM/PM and FG | Selective racking system | 1 | ea. | 247,678 |
| 2 | Lab equipment | Inline lab for quality control | Incubator, Oven, Glass ware, Hot water pot | 1 | Set | 154,799 |
| 3 | Security System | Security equipment & system | Finger scan, card reader | 1 | ea. | 154,799 |
| 4 | Workshop tools | Tool & Equipment for maintenance | Eletric drill, wrench, screw driver, socket, grinder | 1 | ea. | 61,920 |
| 5 | Social facilities | For employee normal used during working | Locker, Desk, chair | 1 | ea. | 92,879 |
| 6 | IT equipment | computers, communications tools, server, switching | See details in Form (1) 7b2 | 1 | Set | 928,793 |
| Other Accessories | | | | | | |
| Total | | | | | | |

Form (1)

Proposal Form of Investor /Promoter for the investment to be made in the Republic of the Union of Myanmar

9. Particulars about the investment business:-

e) Annual requirement of materials **to be imported into the Republic of the Union of Myanmar**

| **Raw materials:** | | |
|---|---|---|
| (imported) | Sugar | White, fine sugar supplies in bulk packaging of 50 kilogrammes or bulk container (* may be able to sourced locally if quality of sugar meets our s |
| (imported) | Coffee | Pure soluble coffee |
| (imported) | Non-dairy creamer | white powder non-dairy creamer used to make creamy mixes |
| (imported) | Other flavours | Caramel, modified starch, tapioca, maltodextrin, aspartame, acesulfame K, salt, and flavouring |
| (imported) | Coffeemixes | Ready mix of coffee beverages |
| (imported) | Chocolate/malt mixes | Ready mix of other beverages such as chocolate drink, white malt, cereal drinks |
| (imported) | Malt | Maltodextrin |
| (imported) | Chocolate/Cocoa powder | Milo powder, chocolate powder, cocoa powder |
| (imported) | Flavours and vitamin | Ferric pyrophosphate, premixes vitamin and flavoring |
| (imported) | Cereal mixes | Mixes of cereal beverage |

**Volume of manufactured products :**

| | Volume in the INVESTMENT PERIOD | | | | | | Volume plan for FUTURE INVESTMEN | | | |
|---|---|---|---|---|---|---|---|---|---|---|
| Year | 2015 | 2016 | 2017 | 2018 | 2019 | 2020 | 2021 | 2022 | 2023 | |
| Powder Beverage (Tonnes) | 5,475 | 8,202 | 11,585 | 15,290 | 19,039 | 21,622 | 24,321 | 27,043 | 29,812 | 3 |

**Volume of raw and packing materials:**

| | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| Import | Sugar (ton) | | | | | | 8,729 | 9,755 | 10,782 | 11,809 | 1 |
| Import | Coffee (ton) | | | | | | 2,078 | 2,322 | 2,567 | 2,811 | |
| Import | Non-dairy creamer (ton) | | | | | | 7,556 | 8,444 | 9,333 | 10,222 | 1 |
| Import | Other flavours (ton) | | | | | | 944 | 1,056 | 1,167 | 1,278 | |
| Import | Coffeemixes (ton) | | | 10,000 | 13,333 | 16,667 | | | | | |
| Import | Chocolate/malt mixes (ton) | | | 383 | 465 | 547 | 629 | 711 | 793 | 874 | |
| Import | Malt (ton) | | | | | | | | | | |
| Import | Chocolate/Cocoa powder(ton) | | | | | | | | | | |
| Import | Flavours and vitamin (ton) | | | | | | | | | | |
| Import | Cereal mixes (ton) | | | 1,202 | 1,492 | 1,825 | 2,104 | 2,499 | 2,917 | 3,382 | |

**Value of raw and packing materials (in Million USD):**

| | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|
| Raw Materials | - | - | 22.5 | 31.0 | 38.6 | 43.9 | 49.4 | 55.0 | 60.7 |

**Average Material cost in million USD per tonne**

| | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| Raw Materials | - | - | 0.002 | 0.002 | 0.002 | 0.002 | 0.002 | 0.002 | 0.002 | ( |

အထွေထွေ အရပ်ရပ် -၁၆

(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၀ ရက်

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများအား website တွင်တင်ပြရန်ကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၁၇ ရက်နေ့ တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးမှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် ခွင့်ပြုခဲ့သည့် လုပ်ငန်းအား Website တွင် ထည့်သွင်းနိုင်ရန်အတွက် ပေးပို့အပ်ပါသည်။

(ချမ်းမြေ့အောင်)

**ဦးစီးအရာရှိ**

၂။ Nestle Myanmar Ltd. ၏ [illegible] MIC အစည်းအဝေး ၁၇.၁၀.၁၄ တွင် ခွင့်ပြုခဲ့သော လုပ်ငန်းအား website တွင် ထည့်သွင်း ဖော်ပြနိုင်ရန် တင်ပြအပ်ပါသည်။

20.10.14

ဒု/ညွှန်မှူး

၃။ ၁၇.၁၀.၂၀၁၄ ရက်နေ့ တွင် ကျင်းပပြုလုပ်သော ၂၄/၂၀၁၄ ကြိမ်မြောက် MIC အစည်းအဝေး မှ ခွင့်ပြုခဲ့သော နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ① ခု အား website တွင် ထည့်သွင်း ဖော်ပြနိုင်ရန်အတွက် [illegible] တင်ပြအပ်ပါသည်။

20.10.14

ဦး-ညွှန်မှူး

၄။ ၁၇.၁၀.၂၀၁၄ ရက်နေ့ တွင် ၂၄/၂၀၁၄ ကြိမ်မြောက် MIC မှ ခွင့်ပြုသော Nestle Myanmar Ltd. ၏ [illegible] Website တင်နိုင်ရန် တင်ပြအပ်ပါသည်။

20.10.2014

4

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုခဲ့သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းစာရင်း

| စဉ် | ကုမ္ပဏီအမည် | တည်နေရာ | ကဏ္ဍ/ လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှု အမျိုးအစား | ခွင့်ပြုသည့်နေ့ရက် |
|---|---|---|---|---|---|
| | | | | | |
| ၁။ | Nestle Myanmar Ltd. | ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ အမှတ်၉၅၊ | အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း | ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု | ၁၇-၁၀-၂၀၁၄ |

မှတ်ချက် ရင်းနှီးမြှုပ်နှံမှုအဆိုပြုလုပ်ငန်းများကို သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ် အစိုးရ အဖွဲ့နှင့် လုပ်ငန်းနှင့် ဆက်စပ်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ/အဖွဲ့အစည်းများမှ သဘောထားမှတ်ချက်များ၊ စိစစ်ခွင့်ပြုချက်များ အပေါ် အခြေခံလျက် ကော်မရှင် အစည်းအဝေးမှ စိစစ်ခွင့်ပြုခဲ့ခြင်းဖြစ်ပါသည်။

ပုံစံ (၂)

အမှတ် ၀၂၀၉

ရက်စွဲ ၂၆-၁၁-၂၀၁၄

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၈၅၂/၂၀၁၄ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၆ ရက်

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၁၃)ပုဒ်မခွဲ(ခ)အရ ဤခွင့်ပြုမိန့်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကထုတ်ပေးလိုက်သည်-

(က) ကမကထပြုသူ၏အမည် MR. DAVID PETTINARI

(ခ) နိုင်ငံသား ARGENTINIAN

(ဂ) နေရပ်လိပ်စာ 1103, YÉ TA KHUN TOWER, UPPER KYIMYINDAING ROAD, KYIMYINDAING TOWNSHIP, YANGON REGION

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ NESTLÉ S.A. AVENUE NESTLÉ 55 VEVEY, VAUD, CH-1800 SWITZERLAND

(င) ဖွဲ့စည်းရာအရပ် SWITZERLAND

(စ) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက် အမှတ် ၉၅၊ စက်မှုဇုန် (၁)၊ ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ ၂၃.၇၅ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကော်မရှင် ခွင့်ပြုမိန့်ရရှိသည့်နေ့မှ ၆ နှစ် အတွင်း

(ည) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၂၅.၀၀ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ (အမေရိကန်ဒေါ်လာ ၂၃.၇၅ သန်း အပါအဝင်)

(ဋ) တည်ဆောက်မှုကာလ ၃ နှစ်

(ဌ) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း ၆ နှစ်

(ဍ) ရင်းနှီးမြှုပ်နှံမှုပုံစံ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းအမည် NESTLÉ MYANMAR LIMITED

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# THE REPUBLIC OF THE UNION OF MYANMAR
## MYANMAR INVESTMENT COMMISSION
No.(1), THITISAR ROAD, YANKIN TOWNSHIP, YANGON

Our ref : DICA-2/FI-106/ 2014( 0205 ) Tel: 95-01-658127
Date : 26th November 2014 Fax:95-01-658136

Subject : Decision of the Myanmar Investment Commission on the Proposal for Production and Distribution of Food and Beverage under the name of "Nestlé Myanmar Limited."

Reference: Nestlé Myanmar Limited.'s Letter dated 28-8-2014.

1. The Myanmar Investment Commission, at its meeting (24/ 2014 ) held on (17-10-2014) had approved the proposal for investment in "Production and Distribution of Food and Beverage" under the name of "Nestlé Myanmar Limited" submitted as a joint venture between Nestlé S.A (95%) from Switzerland and U Aung Maw Thein (5%) from the Republic of the Union of Myanmar.

2. Hence, the "Permit" is herewith issued in accordance with Chapter VII, section 13(b) of the Republic of the Union of Myanmar Foreign Investment Law and Chapter VIII, Rule 49 of the Foreign Investment Rules relating to the Republic of the Union of Myanmar Foreign Investment Law. Terms and conditions to the "Permit" are stated in the following paragraphs.

3. The permitted duration of the project shall be 6 (six) years for phase I. The term of the Lease Agreement for land and buildings shall be initial 6 (six)years from the date of signing of the Lease Agreement between U Aung Maw Thein , Daw Moe Myat Win and Nestlé Myanmar Limited and can be extendable not exceeding 48 years.

4. The annual rent for the land and buildings calculated at the rate of US$ 29 per square meter per year of the land measuring 3.162 acres (12,802 square meters).The annual rent for any extension or renewal of the initial term or otherwise shall be US$ 35 per square meter and shall be due and payable by the Lessee within 30 days from the commencement of the relevant extension or renewal period.

5. In issuing this "Permit," the Commission has granted the followings, exemptions and reliefs as per Chapter XII section 27 (a), (h) and (i) of the Foreign Investment Law. Other exemptions and reliefs under section 27 shall have to be applied upon the actual performance of the project;

(a) As per section 27(a), income tax exemption for a period of five consecutive years including the year of commencement on commercial operation;

(b) As per section 27(h), exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

(c) As per section 27 (i), exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three-year after the completion of construction of business;

6. Nestlé Myanmar Limited shall have to sign the Lease Agreement for land and buildings with U Aung Maw Thein and Daw Moe Myat Win, Subscription and Shareholders' Agreement with Nestlé S.A. and U Aung Maw Thein. After signing such Agreements, each of (5) copies shall have to be forwarded to the Commission.

7. Nestlé Myanmar Limited in consultation with the Department of Company Registration, Directorate of Investment and Company Administration shall have to be registered. After registration, (5) copies each of Certificate of Incorporation and Memorandum of Association and Articles of Association shall have to be forwarded to the Commission.

8. Nestlé Myanmar Limited shall use its best efforts for timely realization of works stated in the proposal. If none of such works has been commenced within one year from the date of issue of this "Permit" it shall become null and void.

9. Nestlé Myanmar Limited has to abide by Chapter X, Rule 58 and 59 of the Foreign Investment Rules for construction period.

10. As per Chapter X, Rule 61 of the Foreign Investment Rules, extension for construction period shall not be allowed more than twice except it is due to unavoidable events such as natural disasters, instabilities, riots, strikes, emergency of State condition, insurgency and outbreak of wars.

11. As per Chapter X, Rule 63 of the Foreign Investment Rules, if Nestlé Myanmar Limited cannot construct completely in time during the construction period or extension period, the Commission will have to withdraw the permit issued to the investor and there is no refund for the expenses of the project.

12. The commercial date of operation shall be reported to the Commission.

13. Nestlé Myanmar Limited shall endeavour to meet the targets for production stated in the proposal as the minimum target.

14. The Commission approves periodical appointments of foreign experts and technicians from abroad as per proposal in accordance with Chapter XI, section 24 and section 25 of the Foreign Investment Law and Nestle´ Myanmar Limited has to follow the existing Labour Laws for the recruitment of staff and labour in accordance with Chapter XIII, Rule 84 of the Foreign Investment Rules.

15. In order to evaluate foreign capital and for the purpose of its registration in accordance with the provisions under Chapter XV, section 37 of the Republic of the Union of Myanmar Foreign Investment Law, it is compulsory to report as early as possible in the following manner:-

(a) the amount of foreign currency brought into Myanmar, attached with the necessary documents issued by the respective bank where the account is opened and defined under Chapter XVI, Rules 134 and 135 of the Foreign Investment Rules;

(b) the detailed lists of the type and value of foreign capital defined under Chapter I, section 2(i) of the said Law, other than foreign currency.

16. Nestlé Myanmar Limited brings in foreign capital defined under Chapter I, section 2(i) of the Foreign Investment Law, other than foreign currency in the manner stated in paragraph 15(b) mentioned above, the Inspection Certificate endorsed and issued by an internationally recognized Inspection Firm with regard to quantity, quality and price of imported materials shall have to be attached.

17. Nestlé Myanmar Limited has the right to make account transfer and expend the foreign currency from his bank account in accordance with Chapter XVI, Rule 136 of the Foreign Investment Rules and for transfer of local currency generated from the business to the local currency account opened at the bank by a citizen or a citizen-owned business in the State and right to transfer back the equivalent amount of foreign currency from the foreign currency bank account of a citizen or citizen-owned business by submitting the sufficient document in accordance with Chapter XVII, Rule 145 of the Foreign Investment Rules.

18. Nestlé Myanmar Limited shall report to the Commission for any alteration in the physical and financial plan of the project. Cost overrun, over and above the investment amount pledged in both local and foreign currency shall have to be reported as early as possible.

19. Nestlé Myanmar Limited shall be responsible for the preservation of the environment at and around the area of the project site. In addition to this, it shall carry out as per instructions made by Ministry of Environmental Conservation and Forestry in which to conduct an Environmental Management Plan (EMP) which describe the measure to be taken for preventing, mitigation and monitoring significant environmental impacts resulting from the implementation and operation of proposed project or business or activity has to be prepared and submitted, and to perform activities in accordance with this EMP and to abide by the environmental policy, Environmental Conservation Law and other environmental related rules and procedures.

20. After getting permit from Myanmar Investment Commission, Nestlé Myanmar Limited shall have to be registered at the Directorate of Industrial Supervision and Inspection.

21. After getting permit from Myanmar Investment Commission, Nestlé Myanmar Limited must follow National Food Law and it is necessary to get the permission of Food and Drug Administration (FDA) under Ministry of Health.

22. Nestlé Myanmar Limited shall have to abide by the Fire Services Department's rules, regulations, directives and instructions. Moreover, fire prevention measures shall have to undertake such as water storage tank, fire extinguishers and provide training to use the fire fighting equipments and also to appoint fire safety officer.

23. Payment of principal and interest of the loan (if any) as well as payment for import of raw materials and spare parts etc., shall only be made local sales of Nestlé Myanmar Limited.

24. Nestlé Myanmar Limited in consultation with Myanma Insurance, shall effect such types of insurance defined under Chapter XII, Rule 79 and 80 of the Foreign Investment Rules.

(Zay Yar Aung)
Chairman

Nestlé Myanmar Ltd.

cc: 1. Office of the Union Government of the Republic of the Union of Myanmar
2. Ministry of Home Affairs
3. Ministry of Foreign Affairs
4. Ministry of Environmental Conservation and Forestry
5. Ministry of Electric Power
6. Ministry of Immigration and Population
7. Ministry of Industry

8. Ministry of Commerce
9. Ministry of Health
10. Ministry of Finance
11. Ministry of National Planning and Economic Development
12. Ministry of Labour, Employment and Social Security
13. Office of the Yangon Region Government
14. Director General, Fire Service Department
15. Director General, Department of Environmental Conservation
16. Managing Director, Myanma Electric Power Enterprise
17. Director General, Immigration and National Registration Department
18. Director General, Directorate of Industrial Supervision and Inspection
19. Managing Director, Pharmaceutical and Foodstuff Industries
20. Director General, Directorate of Trade
21. Director General, Food and Drug Administration (FDA)
22. Director General, Customs Department
23. Director General, Internal Revenue Department
24. Director General, Directorate of Investment and Company Administration
25. Director General, Directorate of Labour
26. Managing Director, Myanma Foreign Trade Bank
27. Managing Director, Myanma Investment and Commercial Bank
28. Managing Director, Myanma Insurance
29. Chairman, Republic of the Union of Myanmar Federation of Chambers of Commerce and Industry(UMFCCI)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**အစည်းအဝေးအမှတ်စဉ် ( ၂၅/၂၀၁၄ )**
**အစည်းအဝေးအစီအစဉ်**

**အစီအစဉ် ( ၂ )**

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄/၂၀၁၄) ကြိမ်မြောက် **အစည်းအဝေးမှတ်တမ်း** အား အတည်ပြုပေးပါရန် တင်ပြခြင်း

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ၁၄။ အစည်းအဝေးမှ အောက်ဖော်ပြပါတို့ကို ဆုံးဖြတ်ပါသည် - | |
| (က) KHG Development Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်တွင် အဆင့်မြင့် လူနေအိမ်ခန်း ၁၄၈ ခန်းပါ အထပ် ၂၈ထပ် Twin Tower တည်ဆောက်ပြီး အခန်းများ ငှားရမ်းခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန်၊ ခွင့်ပြုမိန့်ထုတ်ပေးရန်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းခြင်းအတွက် အခွန်အကောက် ကင်းလွတ်ခွင့်မပြုရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး<br><br>ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန |
| (ခ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် စက်မှုဇုန်မြေငှားရမ်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူခွင့်ပြုချက် ရရှိပါက ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန |
| (ဂ) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် United Knitting (Myanmar) Co., Ltd. မှ CMP စနစ်ဖြင့် ခြေအိတ်တို၊ ခြေအိတ်ရှည်နှင့် ဒူးအထိရှည်သော ခြေအိတ်များ ထုတ်လုပ်ခြင်းလုပ်ငန်း၊ Star Team Manufacturing Co., Ltd. မှ CMP စနစ်ဖြင့် စက်ထိုးထည်များ ထုတ်လုပ်ခြင်း လုပ်ငန်းနှင့်ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wedge Garment Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး |

ကန့်သတ်

516
25/11

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့် အညီ Nestle Myanmar Ltd. အား ကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် (Permit)နှင့် ဆုံးဖြတ်ချက် (Decision)များတွင် ဥက္ကဋ္ဌမှ လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြခဲ့ရာ ဥက္ကဋ္ဌမှ ဆိုင်းငံ့ထားရန် မှတ်ချက်ပြုလာပါသည်။

၂။ Nestle Myanmar Ltd. သည် ဆွစ်ဇာလန်နိုင်ငံ၊ Nestle S.A. မှ (၉၅%) နှင့် မြန်မာနိုင်ငံ၊ ဦးအောင်မော်သိန်းမှ (၅%) အစုရှယ်ယာများ ထည့်ဝင်ကာ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြစ်ပါသည်။

၃။ Nestle Alpine Waters Ltd. သည် လူဇင်ဘတ်နိုင်ငံမှ Compagnie Financiere du Haut-Rhin SA (CFHR) (၅၁%) နှင့် မြန်မာနိုင်ငံမှ ဒေါက်တာစိုင်းဆမ်ထွန်း (၄၉%)တို့ အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရေသန့်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဖြစ်ပါသည်။ ၎င်းလုပ်ငန်းအား ဒေါက်တာစိုင်းဆမ်ထွန်းမှ ခွင့်ပြုမိန့် ပြန်လည်ရုပ်သိမ်းပေးပါ ရန် တင်ပြလာပါသဖြင့် ဥက္ကဋ္ဌမှ ခွင့်ပြုမိန့်အား ဆိုင်းငံ့ထားရန် မှတ်ချက်ပြုထားပါသည်။

၄။ သို့ဖြစ်ပါ၍ Nestle Myanmar Ltd. အား ကုမ္ပဏီသို့ ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရေး အတွက် စဉ်းစားသုံးသပ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(မြသူဇာ)
တွဲဖက်အတွင်းရေးမှူး

ဥက္ကဋ္ဌ

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၅ ရက်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

၁။ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့် အညီ ကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် (Permit)နှင့် ဆုံးဖြတ်ချက် (Decision) များတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ချမ်းမြေ့အောင်)

**ဦးစီးအရာရှိ**

၂။ ၂၄/၂၀၁၄ MIC အစည်းအဝေး ဆုံးဖြတ်ချက်နှင့် ကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် တို့အား ပြုစုတင်ပြအပ်ပါသည်။

5.11.2014

ဒုညွှန်မှူး

လက်ထောက်ညွှန်ကြားရေးမှူး

၃။ ၂၄/၂၀၁၄ ကြိမ်မြောက် MIC အစည်းအဝေးမှ ခွင့်ပြုခဲ့သော Nestle Myanmar Ltd. ၏ ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် တို့အား ပြုစုတင်ပြအပ်ပါသည်။

5-11-14

ဦး-ညွှန်မှူး

၄။ [illegible] PL [illegible] N/S [illegible]
[illegible]

5.11.2014

Ns- Nestle Myanmar MIC

ကန့်သတ်

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရက်သတ္တပါတ်အစီရင်ခံစာ
အမှတ်စဉ်(၄၂/၂၀၁၄)
၂၀-၁၀-၂၀၁၄ ရက်နေ့မှ ၂၄-၁၀-၂၀၁၄ ရက်နေ့ထိ
DICA Weekly Report



၁။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အခြေအနေ ( ၂၀-၁၀-၂၀၁၄ မှ ၂၄-၁၀-၂၀၁၄ ထိ )

(က) ယခုရက်သတ္တပါတ် ခွင့်ပြုခဲ့သည့် လုပ်ငန်းများ

| စဉ် | ကုမ္ပဏီ | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပမာဏ (US$/သန်း) | နေရာ | တိုင်းဒေသကြီး/ပြည်နယ် |
|---|---|---|---|---|---|
| ၁။ | Nestle Myanmar Limited.<br>ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ဆွစ်ဇာလန် | အစားအစာ နှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | ၂၅.၀၀၀ | အမှတ်-၉၅၊ စက်မှုဇုန် (၁)၊ ဒဂုံဆိပ်ကမ်းမြို့နယ် | ရန်ကုန်တိုင်းဒေသကြီး |
| ၂ | Shwe Ka Thar-Shindo Engineering & Manufacturing Private Co., Ltd.<br>ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ဂျပန်နိုင်ငံ | CMP စနစ်ဖြင့် အရည်အသွေးမြင့်၊ အဆင့်မြင့် အီလက်ထရောနစ်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း | ၆.၀၆၀ | အမှတ် ၁၅၁၊ ယောဂီကျောင်းလမ်း၊ ၁၁ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ အီလက်ထရောနစ်ပစ္စည်းနှင့် လျှပ်စစ်မော်တာစက်ရုံ | ရန်ကုန်တိုင်းဒေသကြီး |
| | စုစုပေါင်း | | ၃၁.၀၆၀ | | |

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁၀ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့် အညီ ကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် (Permit)နှင့် ဆုံးဖြတ်ချက် (Decision)များတွင် ဥက္ကဋ္ဌမှ လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(မြသူဇာ)
တွဲဖက်အတွင်းရေးမှူး

ဥက္ကဋ္ဌ

Ns- Nestle Myanmar MIC

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nestle Myanmar Ltd. တည်ထောင်၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့် အညီ ကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် (Permit)နှင့် ဆုံးဖြတ်ချက် (Decision) များတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြန်လည်တင်ပြနိုင်ရန်အတွက် ပြုစုတင်ပြအပ်ပါသည်။

(ချမ်းမြေ့အောင်)

**ဦးစီးအရာရှိ**

၂။ ၂၄/၂၀၁၄ MIC အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်တို့တွင် လက်မှတ်ရေးထိုး ... ပြန်လည်တင်ပြအပ်ပါသည်။

24.11.14

(...)

...

၃။ ၂၄/၂၀၁၄ ကြိမ်မြောက် MIC အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ... Nestle Myanmar Ltd. ၏ ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက် တို့တွင် လက်မှတ်ရေးထိုးပေးပါရန် ... တင်ပြအပ်ပါသည်။

24.11.14

...

ဦး...

၄။ ...

နောက်ဆက်တွဲ(က)

၃

၂-၁၁-၂၀၁၂နေ့တွင် ပြဋ္ဌာန်းခဲ့သည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေ ငှားရမ်းဆောင်ရွက်သည့် ကုမ္ပဏီများ စာရင်း

| စဉ် | ကုမ္ပဏီ အမည် | လုပ်ငန်းအမျိုးအစား/ တည်နေရာ | စုစုပေါင်းမြေ အကျယ်အဝန်း | အဆောက် အဦ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm/US$) | ငှားရမ်း မည့်နှစ် | မြေငှားရန်ခွင့်ပြုမှု အမည် | မြေငှားရန်ခွင့်ပြုမှု ခွင့်ပြုရက်စွဲ | မြေငှားရန်ခွင့်ပြုမှု ခွင့်ပြုကာလ (နှစ်) | သဘောထားများ |
|---|---|---|---|---|---|---|---|---|---|---|
| | Nestle Myanmar Ltd. | အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချ ခြင်း လုပ်ငန်း အမှတ်(၉၅) ၊ စက်မှုဇုန်(၁)၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၃.၁၆၂ဧက (၁၂,၈၀၂ စတုရန်း မီတာ) | အဆောက်အဦ တစ်လုံး ၄၉၆၉.၆၆ စတုရန်းမီတာ | 371,134 US$ / 29 US$ | ကနဦး ၆ နှစ် | ဦးအောင်မော်သိန်း | ၃-၇-၂၀၁၂ | နှစ် ၆၀ ဂရန် ဒဂုံ ဆိပ် ကမ်း | - ရန်ကုန်တိုင်းဒေသကြီး၊<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန<br>- ကျန်းမာရေး ဝန်ကြီး ဌာန<br>- စက်မှုဝန်ကြီးဌာန<br>- စီမံကိန်း စီးပွားရေးနှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန၊ |

၇

## ၂-၁၁-၂၀၁၂နေ့တွင် ပြဋ္ဌာန်းခဲ့သည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေပိုင်ရှင်ထံမှ ငှားရမ်းဆောင်ရွက်သည့် ကုမ္ပဏီများ စာရင်း

| စဉ် | ကုမ္ပဏီ အမည် | လုပ်ငန်းအမျိုးအစား/ တည်နေရာ | စုစုပေါင်းမြေ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm/US$) | ငှားရမ်းမည့်နှစ် | မြေဂရန်ခွင့်ပြုမှု | | | သဘောထားများ |
|---|---|---|---|---|---|---|---|---|---|
| | | | | | | အမည် | ခွင့်ပြုရက်စွဲ | ခွင့်ပြုကာလ (နှစ်) | |
| | Nestle Myanmar Ltd. | အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း အမှတ်(၉၅) ၊ စက်မှုဇုန်(၁)၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ၃.၁၆၂ဧက (၁၂,၈၀၂ စတုရန်းမီတာ) (အဆောက်အဦ တစ်လုံး အပါအဝင်) ၁ယာဉ် | 371,134 US$ / 29 US$ 28.9 | ကနဦး ၆ နှစ် | ဦးအောင်မော်သိန်း အမှတ်(၄၃)၊ အင်းလျားမြိုင်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ၃-၇-၂၀၀၂ | နှစ် ၆၀ ဂရန် ဒဂုံ ဆိပ်ကမ်း | - ရန်ကုန်တိုင်းဒေသကြီး၊ - ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန - ကျန်းမာရေး ဝန်ကြီးဌာန - စက်မှုဝန်ကြီးဌာန - စီမံကိန်း စီးပွားရေးနှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန၊ |

office - 4046.86 sqft Sm = 12796.17 = sqm -> 371088.768 - 1.10.2014 [illegible]

28.9 = 29 US$

Co. { 4048.58 => 28.9 sqm

outside

29 US$ Per Square Per year

Engineering

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ ရက- ၂ /န-၁၀၆/၂၀၁၄ ( ၀၀၈၂ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၁၂ ရက်

☏ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

သို့

ပြည်ထောင်စုဝန်ကြီးရုံး
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက်။ Nestle Myanmar Ltd. ၏ (၂၈-၈-၂၀၁၄) ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံ၊ ဦးအောင်မော်သိန်းမှ (၅%) နှင့် ဆွစ်ဇာလန်နိုင်ငံ၊ Nestle S.A. မှ (၉၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nestle Myanmar Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ စက်မှုဇုန် (၁)၊ အမှတ် ၉၅ ရှိ မြေ ၃.၁၆၂ဧက (၁၂,၈၀၂ စတုရန်း မီတာ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုချက်အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ နည်းဥပဒေ အခန်း(၆) အပိုဒ် ၄၆ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍အောက်ပါအချက်များအပေါ် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ ခုနှစ်ရက် အတွင်း ပြန်ကြားပေးနိုင်ပါရန် အဆိုပြုလွှာ တစ်စုံအား ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ထုတ်လုပ်မည့် ပစ္စည်း တစ်မျိုးချင်း၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ-မရှိ။

(ခ) ဈေးနှုန်းတင်ပြထားမှုသည် ဆီလျော်မှု ရှိ - မရှိ။

(ဂ) နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား / လူအင်အား အချိုးအစားညီမျှမှု ရှိ - မရှိ။

၄။ Nestle Myanmar Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်ခင်လိမ္မာဘန်အေး (တယ်လီဖုန်း ၀၉- ၅၁၈၃၇၉၉) ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း
စက်မှုဝန်ကြီးဌာန

Nestle Myanmar Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ရက-၂ / န-၁၀၆ /၂၀၁၄ ( ၀၁၂၉ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၅ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားလာခြင်းကိစ္စ**
ရည်ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၏ ၂၃-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅(၂၈၇၂)

၁။ မြန်မာနိုင်ငံ၊ ဦးအောင်မော်သိန်းမှ (၅%) နှင့် ဆွစ်ဇာလန်နိုင်ငံ၊ Nestle S.A. မှ (၉၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nestle Myanmar Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ စက်မှုဇုန် (၁)၊ အမှတ် ၉၅ ရှိ မြေ ၃.၁၆၂ဧက (၁၂,၈၀၂ စတုရန်း မီတာ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ အစားအစာနှင့် အဖျော်ယမကာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကို စက်မှုဝန်ကြီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊

(ခ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါ ကြောင်း၊

(ဃ) ထုပ်ပိုးပစ္စည်းများမှအပ ကျန်ကုန်ကြမ်းများအားလုံးကို ပြည်ပမှ တင်သွင်းမည်ဟုဖော်ပြထားသဖြင့် ပြည်တွင်းကုန်ကြမ်းများအား အချိုးအစား အသင့်အတင့် သုံးစွဲနိုင်ရေးနှင့် နို့မှုန့်ကုန်ကြမ်းအား ပြည်ပမှ တင်သွင်းခြင်းထက် ပြည်တွင်း၌ နွားမွေးမြူရေးလုပ်ငန်းကိုလည်း စီစဉ်ဆောင်ရွက်သင့်ပါကြောင်း၊

